# ကန့်သတ်

ကုမ္ပဏီအမည် - Japfa Comfeed Myanmar Pte., Ltd.

လုပ်ငန်း - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့် ရောင်းဝယ်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြု ပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၅-၁-၂၀၁၆ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၂၆-၁-၂၀၁၆ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၇-၁-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| | (ခ) မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန | ၂၇-၁-၂၀၁၆ | ၁၅-၂-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၇-၁-၂၀၁၆ | ၂၃-၂-၂၀၁၆ | |
| | (ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၇-၁-၂၀၁၆ | ၁၆-၂-၂၀၁၆ | |
| ၄ | PAT တင်ပြခြင်း (၄/၂၀၁၆) | ၂၅-၁-၂၀၁၆ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၆-၁-၂၀၁၆ | | |
| ၆ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၃/၂၀၁၆) သို့ တင်ပြခြင်း | ၂၇-၁၁-၂၀၁၅ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ သို့ တင်ပြခြင်း | | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များပြင်ဆင်တင်ပြခြင်း | ၂၄-၂-၂၀၁၆ | | |
| ၈ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၄-၃-၂၀၁၆ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၅၀ ရက် | | |

၁။ ကုမ္ပဏီအမည် Japfa Comfeed Myanmar Pte., Ltd.
၂။ အဖွဲ့အစည်းပုံသဏ္ဍာန် ရာခိုင်နှုန်းနိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
၃။ လုပ်ငန်းအမျိုးအစား တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့်ရောင်းဝယ်ဖြန့်ဖြူးခြင်းလုပ်ငန်း
၄။ တည်နေရာ မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့်နဘူးအိုင်ရွာအကြား၊ မြို့သာ စက်မှုဥယျာဉ်၊ ဇုန်(၁/စီ)၊ စက်မှုဧရိယာဘလောက်၊ မြေကွက်အမှတ်-(C.2+C.3)
၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၈.၉၅ သန်း
၆။ ရောင်းချမည့်စနစ် ၁၀၀% ပြည်တွင်းရောင်း
၇။ လုပ်ငန်းသက်တမ်း ၅၀ နှစ်
၈။ အရင်းကြေကာလ ၇ နှစ်
၉။ IRR ၉%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၆၈.၁၇၂ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၀ | ၀ |
| ၅ | ဝင်ငွေခွန် | ၁၄၇၆.၁၅၀ | ၂၈၀၈.၀၀၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၂၇၂၀.၉၀၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ်ထက်ကျော် ပါကအခွန်ပေးရမည့် ဝန်ထမ်း(၄၉)ဦး |
| ၈ | CSR (၂%) | | ၁၅၇.၃၀၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၄၇.၃၄၃ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၁၈၂ ဦး<br>ပြည်ပ ၄ ဦး<br>ပြည်တွင်းလုပ်သား (၁၈၂) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၁၅၄၆.၄၈၂ | ၅၈၃၄.၇၀၈ |
| | Cost & Benefit | ၁:၄ | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Japfa Comfeed Myanmar Pte., Ltd. မှ တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့်ရောင်းဝယ်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြု ပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Japfa Comfeed Myanmar Pte., Ltd.<br>- Mr. Mark Gerald Eman (အင်ဒိုနီးရှား) | | |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု Japfa Comfeed Myanmar Pte Ltd. (၁၀၀%) | | |
| | လုပ်ငန်းအမျိုးအစား | - တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့်ရောင်းဝယ် ဖြန့်ဖြူးခြင်း လုပ်ငန်း | | |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာ နှင့် နဘူးအိုင်ရွာအကြား၊ မြို့သာ စက်မှုဥယျာဉ်၊ ဇုန်(၁/C)၊ မြေကွက်အမှတ်-(C.2+C.3) | | |
| | မြေပိုင်ရှင် | - Mandalay Myotha Industrial Development Public Company Limited.(MMID) | | |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၁၇.၈၆ဧက (၇၂,၂၇၆.၈၅ စတုရန်းမီတာ) | | |
| | မြေငှားသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) | | |
| | တည်ဆောက်ရေးကာလ | - ၃ နှစ် | | |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၂၁,၀၄၉,၂၈၅.၇၁ နှုန်း<br>(တစ်နှစ် တစ်စတုရန်း မီတာလျှင် ကျပ် ၂၉၁.၂၃ နှုန်း) | | |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် ( ၁၀ နှစ် သက်တမ်းတိုး ၂ ကြိမ်) | | |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၈.၉၅၀ သန်း | | |
| | | **JCMP ( US$/သန်း)** | **JM JV (US$/သန်း)** | **Total (US$/ သန်း)** |
| | စက်နှင့် စက်ပစ္စည်း (ပြည်ပဝယ်) | | ၂.၆၂၂ | ၂.၆၂၂ |
| | စက်နှင့်စက်ပစ္စည်း (ပြည်တွင်းဝယ်) | ၀.၆၀၅ | | ၀.၆၀၅ |
| | အဆောက်အဦး | ၄.၅၉၀ | | ၄.၅၉၀ |
| | မြေငှားရမ်းခ | ၁.၁၃၃ | | ၁.၁၃၃ |
| | **စုစုပေါင်း** | **၆.၃၂၈** | **၂.၆၂၂** | **၈.၉၅၀** |
| ၆။ | ဝန်ထမ်းအင်အား | - ၁၈၆ ဦး | | |
| | ပြည်တွင်း | - ၁၈၂ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး ၏ အနိမ့်ဆုံး လစာ ၁၅၀,၀၀၀.၀၀ကျပ်နှင့် အမြင့်ဆုံးလစာ ၅၀၀,၀၀၀.၀၀ ကျပ်) | | |
| | ပြည်ပ | - ၄ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၄,၀၀၀.၀၀ နှင့် အမြင့်ဆုံးလစာ US$ ၅,၀၀၀.၀၀) | | |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% | | |

| | | |
|---|---|---|
| ၉။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်<br>(၆)နှစ်မြောက်<br>(ပြည်တွင်းရောင်း ၁၀၀%) | **ပစ္စည်းအမျိုးအစား** / **အရေအတွက် (KG)** / **ရောင်းချမည့်ဈေးနှုန်း (ကျပ်/KG)**<br>Feed / ၈၄,၀၀၀,၀၀၀ / ၆၅၀ |
| ၁၀။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) | - US$ ၃၈.၆၄၀ သန်း |
| | အသုံးစရိတ် | - US$ ၃၇.၈၂၈ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - US$ ၀.၈၁၂ သန်း |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - US$ ၀.၂၇၀ သန်း |
| | အရင်းကြေကာလ | - ၇ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၉ % |
| | CSR | - အသားတင်အမြတ်၏ ၂% ကို လျာထားသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၇၅၂၀,၀၀၀ kWh |
| ၁၃။ | မီးဘေးကာကွယ်ရေးစီမံချက် | - မီးသတ်ဦးစီးဌာန၏ လမ်းညွှန်မှုနှင့်အညီ မီးလောင်မှု မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်ရေးအနေဖြင့် မီးသုံးစွဲမှု စစ်ဆေးခြင်း၊ သတိပေးနိုးဆော်ခြင်း၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ ဂါလံ ၅၀,၀၀၀ နှင့် ဂါလံ ၁၂,၀၀၀ ဆန့် ရေလောင်ကန်များ၊ အဝီစိတွင်းများထားရှိခြင်း၊ မီးကင်း ချထားခြင်း၊ ဝန်ထမ်းများအား မီးဘေးတားဆီးရေး အဖွဲ့များ ဖွဲ့စည်း၍ တာဝန်ပေးခြင်း၊ လေ့ကျင့်ပေးခြင်း၊ ရေနှင့် မီးငြိမ်းသတ်ရေး ပစ္စည်းများလုံလောက်စွာ ထားရှိခြင်း၊ အရေးပေါ်အချက်ပေးစနစ်များတပ်ဆင်ခြင်း၊ မီးလောင်မှု ဖြစ်ပွားပါက စနစ်တကျမီးငြိမ်းသတ်ရေးစနစ်နှင့် ပြန်လည် ထူထောင်ရေးစနစ်များစီစဉ်ထားကြောင်း တင်ပြထားပါသည်။ |
| ၁၄။ | အခြားတင်ပြချက် | - Japfa Comfeed Myanmar Pte Ltd. ၏ ကုမ္ပဏီ မှတ်ပုံတင်(မိတ္တူ)၊ MOA, AOA (မိတ္တူ) များ တင်ပြထား ပါသည်။<br>- Japfa Comfeed Myanmar Pte Ltd. ၏ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့် (မိတ္တူ) တင်ပြထား ပါသည်။ |

| | | |
|---|---|---|
| | | - ဒါရိုက်တာ အဖွဲ့ဝင်များ၏ နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် မန္တလေးမြို့သာစက်မှုဇုန် ဖွံ့ဖြိုးတိုးတက်ရေး အများပိုင် ကုမ္ပဏီလီမိတက်နှင့် မြေငှားသူ Japfa Comfeed Myanmar Pte Ltd. တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ် (မိတ္တူ) တင်ပြထားပါသည်။<br>- မန္တလေးမြို့သာစက်မှုဇုန် ဖွံ့ဖြိုးတိုးတက်ရေး အများပိုင် ကုမ္ပဏီလီမိတက်၏ စက်မှုဥယျာဉ် (မြို့သာ) စက်မှု အထူးဒေသတည်ဆောက်ခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် (မိတ္တူ) တင်ပြ ထားပါသည်။<br>- မန္တလေးမြို့သာစက်မှုဇုန် ဖွံ့ဖြိုးတိုးတက်ရေးအများပိုင်ကုမ္ပဏီ လီမိတက်နှင့် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့တို့ ချုပ်ဆိုထားသော စက်မှုဥယျာဉ် (မြို့သာ) တည်ဆောက်ခြင်း လုပ်ငန်းအား ခွဲဝေခံစားသည့်စနစ်ဖြင့် အကျိုးတူ ပူးပေါင်း ဆောင်ရွက်ရန် လုပ်ငန်းသဘောတူ စာချုပ် (မိတ္တူ) တင်ပြ ထားပါသည်။<br>- Japfa Comfeed Myanmar Pte Ltd. ၏ ၂၀၁၄-၂၀၁၅ ဘဏ္ဍာနှစ်အတွက် ငွေစာရင်းရှင်းတမ်း (မိတ္တူ) တင်ပြ ထားပါသည်။<br>- စင်္ကာပူနိုင်ငံရှိ Standard Chartered Bank ၌ Japfa Ltd. သည် ၃၁-၁၀-၂၀၁၅ ရက်နေ့တွင် US$ ၄,၀၂၀,၀၂၈.၄၆ ရှိကြောင်း၊ မြန်မာနိုင်ငံရှိ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ်၌ Japfa Comfeed Myanmar Pte.Ltd. သည် ၃၀-၁၂-၂၀၁၅ ရက်နေ့တွင် US$ ၅၁၁,၅၆၁ ရှိကြောင်း၊ မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ် ၌ Japfa Comfeed Myanmar Pte.Ltd. သည် ၃၀-၁၂-၂၀၁၅ ရက်နေ့တွင် ငွေကျပ် ၁,၀၉၀,၆၅၂,၅၄၇ ရှိကြောင်း၊ မြန်မာနိုင်ငံရှိ ရိုးမဘဏ် (International Banking Department) ၌ Japfa Comfeed Myanmar Pte.Ltd. သည် ၂၉-၁၂-၂၀၁၅ ရက်နေ့တွင် US$ ၁၈,၉၉၁ ရှိကြောင်း၊ မြန်မာနိုင်ငံရှိ ရိုးမဘဏ်၌ Japfa Comfeed Myanmar Pte.Ltd. သည် ၂၉-၁၂-၂၀၁၅ ရက်နေ့တွင် ငွေကျပ် ၃,၄၃၅,၁၅၈,၃၅၈ ရှိကြောင်း ငွေကြေး အထောက် အထား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - Japfa Comfeed Myanmar Pte Ltd. သည် Green Enviro Services Ltd. နှင့် ပူပေါင်း၍ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမည့်အစီရင်ခံစာများ ရေးဆွဲတင်ပြထားပါသည်။<br>- မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိ ဝန်ခံချက်၊ အလုပ်သမားများလစာအပေါ် ဝင်ငွေခွန် ပေးဆောင် မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်း သဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက် နှင့် CSR Project တို့ကို တင်ပြထား ပါသည်။<br>- စက်ရုံ၏ Layout Plan များကို တင်ပြထားပါသည်။<br>- Japfa Comfeed Myanmar Pte Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းစီမံချက် တင်ပြထားပါသည်။ |
| ၁၅။ | စိစစ်တင်ပြချက် | - Exchange Rate အနေဖြင့် 1 US$ =1300 Kyats ဖြင့် ဖော်ပြထားပါသည်။<br>- Japfa Comfeed Myanmar Pte Ltd. မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် ၆၄၂/၂၀၁၃ (၃-၁၂-၂၀၁၃) ဖြင့် ကုလားကုန်းကျေးရွာနှင့် မြောင်းတကာ စက်မှုဇုန်၊ မှော်ဘီမြို့၊ ရန်ကုန်တိုင်းဒေသကြီး တွင် ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တိရစ္ဆာန်မွေးမြူရေးနှင့် တိရစ္ဆာန် အစာ ထုတ်လုပ်ခြင်း လုပ်ငန်းအား လုပ်ကိုင်ရန် ခွင့်ပြုမိန့် ရရှိပြီးဖြစ်ပါသည်။<br>- Japfa Comfeed Myanmar Pte Ltd. သည် ၂၉-၁၀-၂၀၁၄ ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ဖြင့် နိုင်ငံခြားမတည်ငွေရင်းပမာဏအား အမေရိကန်ဒေါ်လာ ၁၁.၁၅သန်းမှ အမေရိကန်ဒေါ်လာ ၂၁.၁၅၅ သို့ တိုးမြှင့်ခဲ့ ပါသည်။<br>- Japfa Comfeed Myanmar Pte Ltd. သည် ၂၇-၅-၂၀၁၅ ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ဖြင့် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုမှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲပြင်ဆင်ခဲ့ပါသည်။ |

| | | |
|---|---|---|
| | | - Japfa Comfeed Myanmar Pte Ltd. သည် ၂-၈-၂၀၁၃ ရက်နေ့မှ ၃၁-၃-၂၀၁၅ အထိ နှစ်ချုပ်ငွေစာရင်း ရှင်းတမ်းတွင် အမြတ်ငွေ ကျပ် ၁၃,၉၄၉,၉၆၀,၉၅၄ (US$ ၁၀,၇၃၀,၇၃၉.၂၀) ရသည်အထိ အောင်မြင်မှုရရှိခဲ့ပါသည်။ အမြတ်ငွေမှ အခွန်အရပ်ရပ်နှင့် သက်ဆိုင်သည့် ရန်ပုံငွေများနုတ်ပြီး ကျန်ရှိသော အသားတင်အမြတ်ငွေများအနက် အမေရိကန်ဒေါ်လာ၅.၀သန်းကိုသာ မိခင်ကုမ္ပဏီ Japfa Myanmar JV Pte., Ltd. Singapore နိုင်ငံသို့ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုချက်ဖြင့် ပြန်လည် လွှဲပြောင်းခဲ့ပြီး ပြည်တွင်း၌ကျန်ရှိသည့် ကုမ္ပဏီ၏ ၂၀၁၄-၂၀၁၅ ခုနှစ် အမြတ်ငွေ ကျပ် ၈,၂၂၆,၆၉၀,၀၀၀ အား ပြန်လည် ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။<br>- အဆိုပါလုပ်ငန်းအတွက် လိုအပ်သော အဓိကစက်ပစ္စည်းများအား ပြည်ပမှ မှာယူတင်သွင်းရန် အမေရိကန် ဒေါ်လာ ၂.၆၂၂ သန်းအား စင်္ကာပူနိုင်ငံရှိ မိခင်ကုမ္ပဏီမှ ထည့်ဝင်ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။<br>- သို့ဖြစ်၍ ကုမ္ပဏီအနေဖြင့် ပြည်ပမှယူဆောင်လာမည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုငွေ အမေရိကန်ဒေါ်လာ ၂.၆၂၂ သန်းဖြင့် ဝယ်ယူမည့် စက်ပစ္စည်းများအပေါ်တွင်သာ အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ခံစားနိုင်မည်ဖြစ်ပြီး ပြည်တွင်းအမြတ်ငွေ ကျပ် ၈,၂၂၆,၆၉၀,၀၀၀ ဖြင့် ပြည်တွင်းဈေးကွက်မှဝယ်ယူမည့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းနှင့် စက်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်မှ အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်ပေးရန်လိုမည်မဟုတ်ပါ။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၂၊ ပုဒ်မ ၂၇ (က)၊ (င)၊ (ဇ)၊ (ဈ) နှင့် (ည) တို့တွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ရှိမည် ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်းအမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် |

| | | |
|---|---|---|
| | | လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>- ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး၊ စီးပွားရေးရာကော်မတီ၏ အစည်းအဝေးသို့လည်းကောင်း ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့လည်းကောင်း ဆက်လက်တင်ပြသွားမည် ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂/ န-၁၄၄/၂၀၁၆(၁၉၇)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Japfa Comfeed Myanmar Pte., Ltd. မှ တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့်ရောင်းဝယ်ဖြန့်ဖြူးခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ စင်္ကာပူနိုင်ငံ Japfa Myanmar JV Pte., Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် တိရစ္ဆာန်မွေးမြူရေးနှင့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်လျက်ရှိသော Japfa Comfeed Myanmar Pte., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား၊ မြို့သာစက်မှုဥယျာဉ်၊ ဇုန် (၁/C)၊ မြေကွက်အမှတ်-(C.2+ C.3) ရှိ စုစုပေါင်း မြေဧရိယာ ၁၇.၈၆ ဧက (၇၂,၂၇၉.၄၂ စတုရန်းမီတာ) ကို ငှားရမ်းကာ တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြေပိုင်ရှင် မန္တလေးမြို့သာစက်မှုဇုန် ဖွံ့ဖြိုးတိုးတက်ရေး အများပိုင် ကုမ္ပဏီလီမိတက်နှင့် မြေငှားသူ Japfa Comfeed Myanmar Pte Ltd. တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ် (မိတ္တူ) တင်ပြထားပါသည်။ မြေအထောက်အထားအဖြစ် မန္တလေးမြို့သာစက်မှုဇုန် ဖွံ့ဖြိုးတိုးတက်ရေး အများပိုင် ကုမ္ပဏီလီမိတက်၏ စက်မှုဥယျာဉ် (မြို့သာ) စက်မှုအထူးဒေသ တည်ဆောက်ခြင်း လုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်(မိတ္တူ)နှင့် မန္တလေးမြို့သာ စက်မှုဇုန် ဖွံ့ဖြိုးတိုးတက်ရေးအများပိုင်ကုမ္ပဏီ လီမိတက်နှင့် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့တို့ ချုပ်ဆိုထားသော စက်မှုဥယျာဉ် (မြို့သာ) တည်ဆောက်ခြင်း လုပ်ငန်းအား ခွဲဝေခံစားသည့်စနစ်ဖြင့် အကျိုးတူ ပူးပေါင်း ဆောင်ရွက်ရန် လုပ်ငန်းသဘောတူ စာချုပ် (မိတ္တူ)တင်ပြ ထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ စုစုပေါင်း ၁၇.၈၆ဧက (၇၂,၂၇၆.၈၅ စတုရန်းမီတာ) ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခမှာ တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၂၉၁.၂၃ နှုန်းဖြင့် တစ်နှစ်လျှင် ကျပ် ၂၁,၀၄၉,၂၈၅.၇၁ နှုန်း ဖြစ်ပါသည်။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး ၁၀ နှစ် နှစ်ကြိမ်သက်တမ်း တိုးမြှင့်ခွင့်ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၈.၉၅၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | JCMP (US$/သန်း) | JM JV (US$/သန်း) | Total (US$/သန်း) |
|---|---|---|---|---|
| (က) | စက်နှင့် စက်ပစ္စည်း (ပြည်ပဝယ်) | | ၂.၆၂၂ | ၂.၆၂၂ |
| (ခ) | စက်နှင့် စက်ပစ္စည်း (ပြည်တွင်းဝယ်) | ၀.၆၀၅ | | ၀.၆၀၅ |
| (ဂ) | အဆောက်အဦး | ၄.၅၉၀ | | ၄.၅၉၀ |
| (ဃ) | မြေငှားရမ်းခ | ၁.၁၃၃ | | ၁.၁၃၃ |
| | **စုစုပေါင်း** | **၆.၃၂၈** | **၂.၆၂၂** | **၈.၉၅၀** |

* Exchange Rate အနေဖြင့် 1 US$ =1275 Kyats ဖြင့် ဖော်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၁၈၂ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၅၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာ ၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချပြီး ပြည်တွင်းတွင်လည်းရောင်းချမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (KG) | ရောင်းချမည့်ဈေးနှုန်း (ကျပ်/KG) |
|---|---|---|---|
| ၁ | Feed | ၈၄,၀၀၀,၀၀၀ | ၆၅၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၈.၆၄၀ |
| (ခ) | အသုံးစရိတ် | ၃၇.၈၂၈ |
| (ဂ) | အသားတင်အမြတ် | ၀.၈၁၂ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ၀.၂၇၀ သန်းဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၉% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာ ဖြစ်ပါကြောင်း နှင့် အဆိုပါ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ထောက်ခံပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန** မှ ချမှတ်ထားသော လုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ **စစ်ဆေးဆောင်ရွက်ရန်** လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ **စိစစ်ချက်ဖြင့်** စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်စေသည့် ပတ်ဝန်းကျင် လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြီး လုပ်ငန်းဆောင်ရွက်ရာတွင်

ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility -CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုသွားရန်အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ လုပ်ငန်းများဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် အဆိုပြုလွှာတွင် ဖော်ပြထားသည့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆောင်ရွက်ပြီး တင်ပြအတည်ပြုချက်ရယူရန် လိုအပ်ပါကြောင်း၊ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (EMP) အစီရင်ခံစာ တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ဃ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် စင်္ကာပူနိုင်ငံရှိ Standard Chartered Bank ၌ Japfa Ltd. သည် ၃၁-၁၀-၂၀၁၅ ရက်နေ့တွင် US$ ၄,၀၂၁,၀၂၈.၄၆ ရှိကြောင်း၊ မြန်မာနိုင်ငံရှိ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်၌ Japfa Comfeed Myanmar Pte.Ltd. သည် ၃၀-၁၂-၂၀၁၅ ရက်နေ့တွင် US$ ၅၁၁,၅၆၁ ရှိကြောင်း၊ မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ် ၌ Japfa Comfeed Myanmar Pte., Ltd. သည် ၃၀-၁၂-၂၀၁၅ ရက်နေ့တွင် ကျပ် ၁,၀၉၀,၆၅၂,၅၄၇ ရှိကြောင်း၊ မြန်မာနိုင်ငံရှိ ရိုးမဘဏ် (International Banking Department) ၌ Japfa Comfeed Myanmar Pte., Ltd. သည် ၂၉-၁၂-၂၀၁၅ ရက်နေ့တွင် US$ ၁၈,၉၉၁ ရှိကြောင်း၊ မြန်မာနိုင်ငံရှိ ရိုးမဘဏ်၌ Japfa Comfeed Myanmar Pte.Ltd. သည် ၂၉-၁၂-၂၀၁၅ ရက်နေ့တွင် ကျပ် ၃,၄၃၅,၁၅၈,၃၅၈ ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။

၁၂။ Japfa Comfeed Myanmar Pte., Ltd. မှ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်းကတိဝန်ခံချက်၊ အလုပ်သမားများလစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည်

ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက် နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) Japfa Comfeed Myanmar Pte Ltd. မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် ၆၄၂/၂၀၁၃ (၃-၁၂-၂၀၁၃) ဖြင့် ကုလားကုန်းကျေးရွာနှင့် မြောင်းတကာ စက်မှုဇုန်၊ မှော်ဘီမြို့၊ ရန်ကုန်တိုင်းဒေသကြီးတွင် ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် တိရစ္ဆာန်မွေးမြူရေးနှင့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်း လုပ်ငန်း အား လုပ်ကိုင်ရန် ခွင့်ပြုမိန့် ရရှိပြီးဖြစ်ပါသည်။

(ခ) Japfa Comfeed Myanmar Pte Ltd. သည် ၂၉-၁၀-၂၀၁၄ ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် နိုင်ငံခြားမတည်ငွေရင်း ပမာဏ အား အမေရိကန်ဒေါ်လာ ၁၁.၁၅သန်းမှ အမေရိကန်ဒေါ်လာ ၂၁.၁၅၅ သို့ တိုးမြှင့်ခဲ့ ပါသည်။

(ဂ) Japfa Comfeed Myanmar Pte Ltd. သည် ၂၇-၅-၂၀၁၅ ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ဖက်စပ်နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှု မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲပြင်ဆင်ခဲ့ ပါသည်။

(ဃ) Japfa Comfeed Myanmar Pte Ltd. သည် ၂-၈-၂၀၁၃ ရက်နေ့မှ ၃၀-၃-၂၀၁၅ ရက်နေ့အထိ နှစ်ချုပ်ငွေစာရင်း ရှင်းတမ်းတွင် အမြတ်ငွေ ကျပ် ၁၃,၉၄၉,၉၆၀,၉၅၄ (US$ ၁၀,၇၃၀,၇၃၉.၂၀) ရသည်အထိ အောင်မြင်မှုရရှိခဲ့ပါသည်။ အမြတ်ငွေမှ အခွန်အရပ်ရပ်နှင့် သက်ဆိုင်သည့် ရန်ပုံငွေများနုတ်ပြီး ကျန်ရှိသော အသားတင်

အမြတ်ငွေများအနက် အမေရိကန်ဒေါ်လာ ၅.၀ သန်းကိုသာ မိခင်ကုမ္ပဏီ Japfa Myanmar JV Pte., Ltd. Singapore နိုင်ငံသို့ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုချက်ဖြင့် ပြန်လည်လွှဲပြောင်းခဲ့ပြီး ပြည်တွင်း၌ကျန်ရှိသည့် ကုမ္ပဏီ၏ ၂၀၁၄-၂၀၁၅ ခုနှစ် အမြတ်ငွေ ကျပ် ၈,၂၂၆,၆၇၀,၀၀၀ အား ပြန်လည် ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။

(င) အဆိုပါလုပ်ငန်းအတွက် လိုအပ်သော အဓိကစက်ပစ္စည်းများအား ပြည်ပမှ မှာယူ တင်သွင်းရန် အမေရိကန်ဒေါ်လာ ၂.၆၂၂ သန်းအား စင်္ကာပူနိုင်ငံရှိ မိခင်ကုမ္ပဏီမှ ထည့်ဝင်ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

(စ) သို့ဖြစ်၍ ကုမ္ပဏီအနေဖြင့် ပြည်ပမှယူဆောင်လာမည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုငွေ အမေရိကန်ဒေါ်လာ ၂.၆၂၂ သန်း ဖြင့် ဝယ်ယူမည့် စက်ပစ္စည်းများအပေါ်တွင်သာ အခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ခံစားနိုင်မည်ဖြစ်ပြီး ပြည်တွင်းအမြတ်ငွေ ကျပ် ၈,၂၂၆,၆၇၀,၀၀၀ ဖြင့် ပြည်တွင်းဈေးကွက်မှဝယ်ယူမည့် ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းနှင့် စက်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်မှ အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်ပေးရန်လိုမည်မဟုတ်ပါ။

(ဆ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၂၊ ပုဒ်မ ၂၇၊ ပုဒ်မခွဲ (က)၊ (င)၊ (ဇ)၊ (ဈ) နှင့် (ည) တို့တွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ရရှိမည်ဖြစ်ပါသည်။

(ဇ) ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင် ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စ အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး၊ စီးပွားရေးရာကော်မတီ၏ အစည်းအဝေးသို့ လည်းကောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့လည်းကောင်း ဆက်လက် တင်ပြသွားမည်ဖြစ်ပါသည်။

(ဈ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ စင်္ကာပူနိုင်ငံ Japfa Myanmar JV Pte., Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် တိရစ္ဆာန်မွေးမြူရေးနှင့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်လျက်ရှိသော Japfa Comfeed Myanmar Pte., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား၊ မြို့သာစက်မှုဥယျာဉ်၊ ဇုန် (၁/C)၊ မြေကွက်

အမှတ်-(C.2+ C.3) ရှိ စုစုပေါင်း မြေဧရိယာ ၁၇.၈၆ ဧက (၇၂,၂၇၉.၄၂ စတုရန်းမီတာ) ကို ငှားရမ်းကာ တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ/မျှောစာတွဲ

## Japfa Myanmar JV Pte., Ltd. ၏
## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါ ရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Japfa Myanmar JV Pte., Ltd. | (a) Mr. Mark Gerald Eman<br>Indonesia<br>P.P No: A 8958583<br>Managing Director | Agung Raya II # 31A, Lenteng Agung, Jakata Selatan, Indonesia, 12610 |
| | | (b) Mr. Tan Yong Nang<br>Singapore<br>P.P No: E 348370 C<br>Director | 8 Jalan Haji Alias Corona Court Singapore 268510 |
| | | (c) Mr. Peter Chi Kee Chin<br>New Zealand<br>P.P No: LL 248759<br>Director | One Devonshire Apartment #26-06, 1 Devonshire Road, Singapore 239896 |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉-၇၃၁၃၂၇၄၁ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | အမှတ်-၂၆၄၊ ၆ လမ်း၊ ရန်ကုန်စက်မှုဇုန်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန် |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | Mr. Mark Gerald Eman |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | တိရစ္ဆာန်မွေးမြူရေးနှင့် တိရစ္ဆာန်အစာထုတ်လုပ်ခြင်း လုပ်ငန်း၊ တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | 355 FC/ 2013-2014 |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | ၁-၈-၂၀၁၈ |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

**နောက်ဆက်တွဲ-က**



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**

**မန္တလေးမြို့**

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ ( ၈၄၉ )

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်



သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ ။ **တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားပြန်ကြားခြင်း**

၅၀ 23/2 ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇.၁.၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၄၄ / ၂၀၁၆(၀၇၆)

၁။ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား၊ မြို့သာစက်မှုဥယျာဉ်၊ ဇုန်( ၁ / စီ )၊ စက်မှုဧရိယာဘလောက်၊ မြေကွက်အမှတ်(C2+C3)ရှိ မြေဧရိယာ ၁၇.၈၆ဧက(၇၂၂၇၉.၄၂ စတုရန်းမီတာ)အား ငှားရမ်းပြီး Japfa Comfeed Myanmar Pte Ltd တည်ထောင်ကာ တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာ(၁၇.၈၆)ကေသည် ကွင်းအမှတ်(၁၀၆၄) ယာမြေအမျိုးအစားဖြစ်ပြီး ၂၀၁၂ခုနှစ်၊ လယ်ယာမြေဥပဒေနှင့်အညီ အခြားနည်းသုံးစွဲခွင့်ကို စက်မှုဇုန်မြေနေရာအဖြစ် ခွင့်ပြုချက်ရရှိပြီးဖြစ်သည့်အပြင် ကွင်းဆင်းစိစစ်တွေ့ရှိချက်များအရ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) **နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ/ မရှိ** နှင့်ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် မြို့သာစက်မှုဥယျာဉ်မြို့တော် တည်ဆောက်ရေးစီမံကိန်းစက်မှုဧရိယာ ဘလောက်အတွင်းတည်ရှိပြီး အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိသော ဇုန်ဧရိယာအတွင်း တည်ရှိသဖြင့် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိကြောင်း ၊

( ခ ) **မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/ မဖြစ်** နှင့်ပတ်သက်၍ စက်ရုံပြီးစီးပါက အမြဲတမ်းဝန်ထမ်း (၁၀၀)ဦးနှင့်အချိန်ပိုင်းလုပ်သား(၁၀၀)ဦး အလုပ်အကိုင်အခွင့်အလမ်း ရရှိမည်ဖြစ်သည့် အပြင် ဘေးပတ်ဝန်းကျင်ရှိ ဒေသခံများအတွက် စီးပွားရေး၊ လူမှုရေး၊ ပိုမိုကောင်း မွန်

လာကာ မြို့နယ်အတွင်း စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုနှုန်း မြင့်တက်လာမည်ဖြစ်သဖြင့် အထောက် အကူဖြစ်နိုင်ပါကြောင်း ၊

(ဂ) **အဆိုပြု မြေနေရာကို စက်ရုံအတွက်သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ / မရှိ** နှင့်ပတ်သက်၍ တင်ပြလျှောက်ထားသည့် မြေနေရာသည် ကျောက်ကုန်းနှင့် သဲဆန်သော မြေများသာဖြစ်ပြီး အပင်ပေါက်ရောက်ခြင်းမရှိသဖြင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှု မရှိသဖြင့် လက်ခံနိုင်ခြင်းရှိပါကြောင်း ၊

(ဃ) **လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်/ မဟုတ်** နှင့်ပတ်သက်၍ စက်ရုံ တည်ဆောက်မည့် မြေနေရာသည် မြို့သာစက်မှုဥယျာဉ်မြို့တော် ဇုန်(၁/စီ) မြေကွက်အမှတ် (C2 + C3)ရှိ ဧရိယာ(၁၇.၈၆)ဧက၊ စက်ရုံအလုပ်ရုံဘလောက် ဧရိယာအတွင်း တည်ရှိသဖြင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာ ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ **သီးခြားအကြံပြုရန်မရှိပါ ။**

၂။ သို့ဖြစ်ပါ၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Japfa Comfeed Myanmar Pte Ltd တည်ထောင်ကာ တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်ပြီး (၁၈.၂.၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၆/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ်(၈၃)အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

**မိတ္တူကို**

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

1136

DG 5/12/2

NPT-484
10.2.2016

MIC. 70/15/2

**နောက်ဆက်တွဲ- ၈**



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊၃/ ၃၀၀၀/ မွေးရေကျေး( ၂၀၄ /၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၉ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၁-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၂/ န- ၁၄၄/ ၂၀၁၆(၀၇၉)
(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၈-၂-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ညကခ/ သထ/ စက်ရုံ/ ၂၀၁၆ (၀၈၀)

၁။ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Japfa Comfeed Myanmar Pte Ltd. တည်ထောင်ကာ မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား၊ မြို့သာစက်မှုဥယျာဉ်၊ ဇုန် (၁/ စီ)၊ စက်မှုဧရိယာဘလောက်၊ မြေကွက်အမှတ်-(C.2+C.3) ရှိ စုစုပေါင်း မြေဧရိယာ ၁၇.၈၆ ဧက (၇၂,၂၇၉.၄၂ စတုရန်းမီတာ) ကိုငှားရမ်းကာ တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြမှုအပေါ် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ Japfa Comfeed Myanmar Pte Ltd. ၏ တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ထုတ်လုပ်မည့် Poultry Ration အမျိုးအစား၊ နှစ်အလိုက်ထုတ်လုပ်ရန်လျာထားချက်ပမာဏကိုဖော်ပြရန်နှင့် GMP Standards (Good Manufacturing Practices) ဖြင့် ဆောင်ရွက်မည်ဆိုပါက အဆိုပြုချက်အား ကန့်ကွက်ရန်မရှိကြောင်း မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်းချက် (၂) ပါစာဖြင့် တင်ပြထားပါသည်။

၃။ သို့ဖြစ်ပါ၍ Japfa Comfeed Myanmar Pte Ltd. မှ တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်

တင်ပြခြင်းအပေါ် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) Japfa Comfeed Myanmar Pte Ltd.

(၃) ရုံးလက်ခံ

(၄) မျှော

၃၇.






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံး




စာအမှတ်၊ ညကခ/သထ/စက်ရုံ/၂၀၁၆(၈၈)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်

အကြောင်းအရာ။ Japfa Comfeed Myanmar Pte Ltd. နှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၄၄/ ၂၀၁၆ (၀၇၉)

Japfa Comfeed Myanmar Pte Ltd.၏ မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့်နဘူးအိုင်ရွာအကြား မြို့သာစက်မှုဥယျာဉ်၊ ဇုန် (၁/ စီ)၊ စက်မှုဇရိယာဘလောက်၊ မြေကွက်အမှတ်- (C.2+C.3) ရှိ စုစုပေါင်း မြေဧရိယာ ၁၇.၈၆ ဧက (၇၂,၂၇၉.၄၂ စတုရန်းမီတာ) ကို ငှားရမ်းကာ တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့် လုပ်ငန်းအဆိုပြုလွှာနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာမှုအပေါ် ထုတ်လုပ်မည့် Poultry Ration အမျိုးအစား၊ နှစ်အလိုက်ထုတ်လုပ်ရန်လျာထားချက်ပမာဏကိုဖော်ပြရန်နှင့် GMP Standards (Good Manufacturing Practices) ဖြင့် ဆောင်ရွက်မည်ဆိုပါက မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ဒေါက်တာရဲထွန်းဝင်း
ညွှန်ကြားရေးမှူးချုပ်

ပြည်ထောင်စုဝန်ကြီးရုံး
မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

မိတ္တူကို

ဒုတိယဝန်ကြီး (အသားကဏ္ဍ)၊ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

အမြဲတမ်းအတွင်းဝန်၊ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

လက်ခံစာတွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

13c, ၁၃
23/2

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၄၁၉၀)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇.၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၄၄ / ၂၀၁၆ (၀၇၇)

၁။ Japfa Comfeed Myanmar Pte Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့်နဘူးအိုင်ရွာအကြား၊ မြို့သာစက်မှုဥယျာဉ်၊ ဇုန်(၁/စီ)၊ စက်မှုဧရိယာဘလောက်၊ မြေကွက်အမှတ်(C.2+C.3)တွင် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ ထောက်ခံချက် လိုအပ်ပါသည်။

(စ) စက်ပစ္စည်းများစာရင်း သင့်လျော်မှု ရှိပါသည်။

(ဆ) ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချောထွက်ရှိမှု သင့်လျော်မှု ရှိပါသည်။

၃။ သို့ပါ၍ Japfa Comfeed Myanmar Pte Ltd. မှ တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၂.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

၁၁၉ ၁၈၁/16/2

**နောက်ဆက်တွဲ-ဃ**




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/MIC(OSS)/ECD/၀၁(၄၃/၁၈)
ရက် စွဲ ၊၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်

သို့

1T၄,74 16/2

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Japfa Comfeed Myanmar Pte Ltd. မှ တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၄၄/ ၂၀၁၆(၀၈၈)

၁။ Japfa Comfeed Myanmar Pte Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါးဇွန်မြို့နယ်၊ မြို့သာနှင့်နဘူးအိုင်ရွာကြား၊ မြို့သာစက်မှုဇုန်၊ ဇုန်(၁/စီ)၊ စက်မှုဧရိယာဘလော့က်၊ မြေကွက်အမှတ်( C.2+C.3 )ရှိ စုစုပေါင်းမြေဧရိယာ ၁၇.၈၆ ဧက(၇၂၂၇၉.၄၂စတုရန်းမီတာ)ကို ငှားရမ်းကာ တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအားနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး(၅၀)နှစ်နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ကြောင်း၊ ထုတ်ကုန်ပစ္စည်းများအနေဖြင့် ပထမနှစ်တွင် တိရစ္ဆာန်အစာ 3000000 Kg (30000 Tons) နှင့်နှစ်(၃၀)အတွင်း 252000000 Kg ( 252000 Tons ) အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံပူးပေါင်းဆောင်ရွက်မှု ( Corporate Social Responsibility - CSR)လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများ၊ လူမှုအကျိုးစီးပွားနှင့်ကျန်းမာရေးအပေါ်ထိခိုက်မှုများမရှိစေရန်(သို့မဟုတ်)နည်းပါးစေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း( Environmental Impact Assessment-EIA )နှင့် အဆိုပါဆန်းစစ်လေ့လာတွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန်(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် ဆောင်ရွက်မည့် အစီအမံများပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan – EMP )တို့ကို နိုင်ငံတကာစံချိန်စံညွှန်းနှင့်အညီ Green Environ Services Ltd ၏ ကျွမ်းကျင်ပညာရှင်များပါဝင်သည့်အဖွဲ့မှ တာဝန်ယူလေ့လာဆန်းစစ်မှုများပြုလုပ်လျက်ရှိပါကြောင်းဖော်ပြပါရှိပါသည်။

၃။ Japfa Comfeed Myanmar Pte Ltd. မှ တိရစ္ဆာန်အစာများထုတ်လုပ်ခြင်းလုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များအားစနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင်ရေထု၊ မြေထုညစ်ညမ်းမှုဖြစ်ပေါ်လာနိုင်ခြင်း၊ ထွက်ရှိလာမည့် အမှုန်အမွှားများ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်အား အနှောက်အယှက်ဖြစ်စေနိုင်ခြင်း၊ ထွက်ရှိလာမည့် အနံ့အသက်၊ အနံ့ဆိုးများကြောင့် ပတ်ဝန်းကျင်ရှိပြည်သူများ၏ ကျန်းမာရေးကိုထိခိုက်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Japfa Comfeed Myanmar Pte Ltd. မှ တိရစ္ဆာန်အစာများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှုပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility – CSR )အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုသွားရန်အပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်

ဆောင်ရွက်ရန်။

( ခ ) လုပ်ငန်းများဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုမရှိစေ(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် အဆိုပြုလွှာတွင်ဖော်ပြထားသည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA ) ကို ဆောင်ရွက်ပြီး အစီရင်ခံစာအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်။

( ဂ ) အထက်ပါလေ့လာဆန်းစစ်ချက်ရလဒ်များအား အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်နှင့်အစိုင်အခဲစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan - EMP )ကို အဆိုပြုလွှာတွင်ဖော်ပြထားသည့်အတိုင်းရေးဆွဲတင်ပြပြီး စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ/ နည်းဥပဒေ/ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

( င ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ